Myanmar Agribusiness Public Corporation Limited (MAPCO) မှ BOT စနစ်ဖြင့် ခေတ်မီအပြည်ပြည်ဆိုင်ရာ ဆန်နှင့် ကောက်ပဲသီးနှံ တင်ချဆိပ်ခံတံတားနှင့် စီးပွားရေးလုပ်ငန်းဆောင်တာများ၏ ဆက်စပ်အဆောက်အအုံများ တည်ဆောက်ခြင်း လုပ်ငန်းအား ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အဆိုပြုချက်လက်ခံရရှိခြင်း | ၁၅-၁-၂၀၁၆ | | - |
| ၂။ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၆-၁-၂၀၁၆ | ၁၇-၂-၂၀၁၆ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၂၆-၁-၂၀၁၆ | ၈-၂-၂၀၁၆ | |
| | (ဂ) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း | ၂၆-၁-၂၀၁၆ | ၂၅-၂-၂၀၁၆ | |
| ၃။ | PAT အစည်းအဝေး (၄/၂၀၁၆) (၂၅-၁-၂၀၁၆)သို့ တင်ပြခြင်း | ၂၅-၁-၂၀၁၆ | | |
| ၄။ | PAT အစည်းအဝေးဆုံးဖြတ်ချက် ကုမ္ပဏီသို့ ပြန်ကြားသည့် ရက်စွဲ | ၂-၂-၂၀၁၆ | | |
| ၅။ | ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏သဘောထားမှတ်ချက်နှင့်အညီ ESIA စာအုပ်ပေးပို့ ခြင်း | ၅-၂-၂၀၁၆ | | |
| ၆။ | ကုမ္ပဏီမှအဆိုပြုလွှာ(၉)စုံ ပြန်လည်ပေးပို့ခြင်း | ၈-၃-၂၀၁၆ | | |
| ၇။ | PAT အစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီ ကုမ္ပဏီမှ ပြင်ဆင်တင်ပြခြင်း | ၂၄-၂-၂၀၁၆ | | |
| ၈။ | ကော်မရှင်အစည်းအဝေးသို့ တင်ပြမည့် အကြိမ်/နေ့ရက် | (၁၀/၂၀၁၆) (၁၈-၃-၂၀၁၆) | | |
| | **စုစုပေါင်းကြာမြင့်ရက်** | ၅၇ ရက် | | |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | Myanmar Agribusiness Public Corporation Limited (MAPCO) |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - | အများပိုင်ကုမ္ပဏီ (Public Company ဖြစ်ပါသည်။) |
| လုပ်ငန်းအမျိုးအစား | - | BOT စနစ်ဖြင့် ခေတ်မှီအပြည်ပြည်ဆိုင်ရာ ဆန်နှင့် ကောက်ပဲသီးနှံ တင်ချ ဆိပ်ခံတံတားနှင့် စီးပွားရေးလုပ်ငန်းဆောင်တာများ၏ ဆက်စပ်အဆောက်အအုံများ တည်ဆောက်ခြင်းလုပ်ငန်း။ |
| တည်နေရာ | - | ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်း၊ မြေကွက်အမှတ် (၂၈) ရှိ မြေ ၃၇.၀၆ ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | ကျပ် ၉၃၂၆၁.၄၁ သန်း (US$ ၄၈.၇၆ သန်းအပါအဝင်) |
| လုပ်ငန်းသက်တမ်း | - | ကနဦး နှစ် (၅၀) နှင့် (၁၀)နှစ် (၂) ကြိမ် |
| အရင်းကြေကာလ | - | (၈) နှစ် (၅)လ |
| IRR | - | ၄.၃၂ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၃.၀၀ (၁ နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၇ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၁၄၂၁.၇၁ | |
| ၄ | ဝင်ငွေခွန် | ၄၃၈၈.၅၀ | ၁၀၇၂၉.၄၀ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ၃၄၈၈.၈၁ |
| ၆ | မြေငှားရမ်းခ | | ၁၀၆၂၅.၇၅ |
| ၇ | လျှပ်စစ်မီးသုံးစွဲခ | | ၁၀၀၀.၀၀ |
| ၈ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ၂၅.၈၀ |
| ၉ | CSR (၁%) | | ၁၃၂.၇၈ |
| | | | ပြည်တွင်းဝန်ထမ်း (၁၈၉)ဦးအလုပ်အကိုင် ရရှိမည် ဖြစ်ပါသည်။ |
| | **စုစုပေါင်း** | ၅၈၄၀.၂၁ | ၂၆၀၀၃.၇၁ |
| | Cost : Benefit | ၁ : ၄ | |

Myanmar Agribusiness Public Corporation Limited (MAPCO)မှ BOT စနစ်ဖြင့် ခေတ်မီဘက်စုံသုံးအပြည့်ပြည့်ဆိုင်ရာ ဆန်နှင့် ကောက်ပဲသီးနှံတင်ချ ဆိပ်ခံတံတားနှင့်စီးပွားရေးလုပ်ငန်းဆောင်တာများ၏ ဆက်စပ်အဆောက်အအုံများတည်ဆောက်ခြင်းလုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်းသည့်အချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Myanmar Agribusiness Public Corporation Limited (MAPCO) |
| | လုပ်ငန်းအဆိုပြုသူအမည် | - ဦးရဲမင်းအောင် (ဦးမြင့်လွင်) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - အများပိုင်ကုမ္ပဏီ(Public Company ဖြစ်ပါသည်။) |
| | အဆိုပြုလုပ်ငန်းအမျိုးအစား | - BOTစနစ်ဖြင့်ခေတ်မီ ဘက်စုံသုံးအပြည့်ပြည့်ဆိုင်ရာ ဆန်နှင့်ကောက်ပဲသီးနှံတင်ချ ဆိပ်ခံတံတားနှင့် စီးပွားရေးလုပ်ငန်းဆောင်တာများ၏ ဆက်စပ်အဆောက်အအုံများ တည်ဆောက်ခြင်းလုပ်ငန်း<br>- (စီးပွားရေးလုပ်ငန်းဆောင်တာများ၏ ဆက်စပ်အဆောက်အအုံများ တည်ဆောက်ခြင်းလုပ်ငန်းဆိုသည်မှာ ဆန်နှင့်ကောက်ပဲသီးနှံသိုလှောင်ခြင်း (Warehouses and Silos)၊ ထုပ်ပိုးခြင်းနှင့် သင်္ဘောတင် သယ်ယူနိုင်ရန်အတွက် ပြင်ဆင်ခြင်းလုပ်ငန်း၊ သင်္ဘောစောင့်ဆိုင်းစဉ်ကာလ၌ Warehouse များတွင် သိုလှောင်ခြင်း၊ ငှားရမ်းခြင်း၊ လိုအပ်ပါက Export Quality ဆန်များကို fumigation ပြုလုပ်ခြင်း လုပ်ငန်း၊ Warehouse မှ export ဆန်နှင့် ကောက်ပဲသီးနှံများကို သင်္ဘောပေါ်အရောက်တင်ပို့ခြင်းများပြုလုပ်မည်ဖြစ်ပါသည်။) |
| | လုပ်ငန်းတည်နေရာ / မြေအကျယ်အဝန်း | - ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါ ဆိပ်ကမ်း၊ မြေကွက်အမှတ် (၂၈)ရှိမြေ ဧရိယာ ၃၇.၀၆ ဧက |

| စဉ် | အကြောင်းအရာ | မြေဧရိယာ (ဧက) |
|---|---|---|
| ၁။ | Container Yard Area | ၁၇.၀၀ |
| ၂။ | Commercial Activities Area | |
| | - Warehouses | ၅.၃၄ |
| | - Processing complex | ၁.၃၈ |
| | - Silo | ၀.၉၂ |
| | - Freight Station | ၀.၉၂ |
| | - Truck holding area | ၀.၇၂ |
| | - Packing house | ၀.၅၀ |
| | - Office Building | ၀.၃၅ |
| | - Water Storage | ၀.၁၃ |
| | - Worksho | ၀.၁၈ |
| | - Power Sub Station | ၀.၀၈ |
| | - Fuel Station | ၀.၀၈ |
| | - Staff Car parking | ၀.၀၅ |
| | - Staff Canteen | ၀.၀၈ |
| | - Road Pavement | ၆.၆၃ |
| | - Other Activities Area | ၂.၆၉ |
| | စုစုပေါင်း | ၃၇.၀၆ |

| | | |
|---|---|---|
| ၂။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | ကနဦးနှစ်(၅၀)နှင့် သက်တမ်းတိုး (၁၀)နှစ် (၂)ကြိမ် |
| | တည်ဆောက်ရေးကာလ | ၃ နှစ် ၆ လ |
| | ပဏာမ စူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ | ၆ လ |
| ၃။ | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **ကျပ် ၉၃၂၆၁.၄၁ သန်း (US$ ၄၈.၇၆ သန်းအပါအဝင်)** |
| | **ဆိပ်ခံတံတားနှင့်ဆက်နွယ်လုပ်ငန်းများ (ရေပိုင်း)** | |
| | ရှေ့ဆိပ်ခံ(၁၈၀ မီတာ X ၃၀ မီတာ) | ကျပ် ၁၈၁၁၃.၅၈ သန်း (US$ ၁၀.၀၉ သန်းအပါအဝင်) |
| | တံတားချဉ်းကပ်လမ်းကျောက်ခုံ | ကျပ် ၄၁၇.၉၅ သန်း |
| | ကမ်းပါးထိမ်းရေကာတာရိုး တည်ဆောက်ခြင်း | ကျပ် ၂၆၅.၈၀ သန်း |
| | သောင်တူးဖော်ခြင်းနှင့် ဖယ်ရှားခြင်း | ကျပ် ၁၉.၂၀ သန်း |
| | **ဆိပ်ခံတံတားနှင့်ဆက်နွယ်လုပ်ငန်းများ(ကုန်းပိုင်း)** | ကျပ် ၃၃၀၀၄.၈၁ သန်း (US$ ၄.၆၆ သန်းအပါအဝင်) |
| | **စက်ပစ္စည်းကိရိယာတန်ဖိုး ပမာဏ** | ကျပ် ၃၁၈၁၆.၈၀ သန်း (US$ ၂၆.၅၁ သန်းအပါအဝင်) |
| | **ရုံးသုံးပရိဘောဂများ** | ကျပ် ၂၀.၀၀ သန်း |
| | **ငွေသား** | ကျပ် ၉၆၀၃.၂၇ သန်း (US$ ၇.၅၀ သန်းအပါအဝင်) |
| | | (1 USD 1200 ks) |
| ၄။ | ဝန်ထမ်းအင်အား | ပြည်တွင်း ၁၈၉ ဦး (အနိမ့်ဆုံး ဝန်ထမ်းလစာမှာ ကျပ် ၁၁၂၀၀၀ ဖြစ်ပြီး အမြင့်ဆုံး ဝန်ထမ်းလစာမှာ ကျပ် ၅၀၀၀၀၀ ဖြစ်ပါသည်။)<br>ပြည်ပ - ၂၀ ဦး (ဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၁၅၀၀ ဖြစ်ပါသည်။) |
| ၅။ | ဝန်ဆောင်မှု(၆)နှစ်မြောက် | ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်း (1 USD= 1200 ks) |

| စဉ် | ဝန်ဆောင်နိုင်မှု | US$ (သန်း | ကျပ် (သန်း)) | စုစုပေါင်း (ကျပ်)သန်း |
|---|---|---|---|---|
| (က) | Jetty Relating Income | ၁၂.၄၉ | | ၁၄၉၈၂.၁၆ |
| (ခ) | Terminal Income | | ၆၆၃၃.၅၀ | ၆၆၃၃.၅၀ |
| (ဂ) | Processing Packing & Warehousing | | ၁၂၈၁၆.၀၀ | ၁၂၈၁၆.၀၀ |
| | **စုစုပေါင်း** | **၁၂.၄၉** | **၁၉၄၄၉.၅၀** | **၃၄၄၃၁.၆၆** |

| | | |
|---|---|---|
| ၆။ | ဝင်ငွေ (၆ နှစ်မြောက်) | - ကျပ် ၃၄၄၃၁.၆၆ သန်း |
| | အသုံးစရိတ် | - ကျပ် ၃၀၁၄၈.၆၉ သန်း |
| | အသားတင်အမြတ် | - ကျပ် ၄၂၈၂.၉၇ သန်း |
| ၇။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် | |
| | ဝင်ငွေခွန် | - ကျပ် ၁၄၂၇.၆၆ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - US$ ၀.၅၉ သန်း၊ ကျပ် ၉၂၆.၁၇ သန်း |

| | | |
|---|---|---|
| | အရင်းကြေကာလ | - (၈)နှစ် နှင့် (၅)လ |
| | IRR | - ၄.၃၂ % |
| ၈။ | သက်ဆိုင်ရာဌာနများမှ သဘောထား | - ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနနှင့် မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်းတို့မှ ထောက်ခံ တင်ပြထားပါသည်။ |
| ၉။ | ငွေကြေးအထောက်အထား | - ငွေကြေးအထောက်အထားအဖြစ် Myanma Apex Bank ၌ ၂၈-၉-၂၀၁၅ နေ့ရက်တွင် Myanmar Agribusiness Public Corporation အမည်ဖြင့် လက်ကျန်ငွေအဖြစ် US$ ၁၅၀,၄၁၂.၅၆ ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၀။ | ကတိဝန်ခံချက် | - သက်ဆိုင်ရာ စည်းမျဉ်းစည်းကမ်းများအား လိုက်နာမည် ဖြစ်ကြောင်း ဝန်ခံချက်များ တင်ပြထားပါသည်။ |
| ၁၁။ | လျှပ်စစ်ဓါတ်အား | - လျှပ်စစ်ဓါတ်အား ၃၁၅ KVA သုံးစွဲမည်ဖြစ်ပါသည်။ |
| ၁၂။ | အခွန်အကောက် ကင်းလွတ်ခွင့် လျှောက်ထားချက် | - မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း (၁၁)၊ ပုဒ်မ ၂၀ပါ (က၊ဂ၊စ၊ဆ၊ဇ၊ည)အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကိုတင်ပြလျှောက်ထားလျှင်ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။ |
| ၁၃။ | ပို့ဆောင်ရေးဝန်ကြီးဌာနမှ တင်ပြချက် | - MAPCO အား ဆန်နှင့် ကောက်ပဲသီးနှံထွက်ကုန်များဖြစ်သည့် ပဲမျိုးစုံ နှင့်နှမ်းစသည့်ကုန်ပစ္စည်းများ ကိုင်တွယ်နိုင်သည့်ဆိပ်ခံတံတားလုပ်ကိုင် ဆောင်ရွက်ရန်အတွက် သီလဝါဆိပ်ကမ်းဒေသရှိ အကွက်အမှတ်(၂၈) အား ကော်မရှင်မှ သတ်မှတ်ပေးပြီး ဖြစ်ပါကြောင်း။<br>- မြေဧရိယာ ၃၇.၀၆ ဧကရှိသည့်အနက် မြေဧရိယာ ၁၇ ဧကခန့် ကို ဆိပ်ကမ်းလုပ်ငန်းနှင့် သက်ဆိုင်သည့် အထောက်အကူပြု အဆောက် အအုံများကို အကောင်အထည်ဖော် ဆောင်ရွက်ရန် ရည်ရွယ်ထားပြီး မြစ်ကမ်း နဖူးတွင်မျက်နှာစာ အလျား ၁၈၀ မီတာ x အကျယ်၃၀မီတာ အရွယ်ရှိ ပဲမျိုးစုံနှင့် နှမ်းစသည့်ကုန်ပစ္စည်းများ ကိုင်တွယ်နိုင်သည့် ခေတ်မီ အပြည်ပြည်ဆိုင်ရာဘက်စုံသုံး ဆိပ်ခံတံတား တစ်စင်းကို အကောင်အထည်ဖော် ဆောင်ရွက်သွားရန် ရည်ရွယ်ထားကြောင်း။<br>- ကျန် မြေဧရိယာ ၂၀.၀၆ ဧက ခန့်ပေါ်တွင် စီးပွားရေးလုပ်ငန်းဆောင် တာများဖြစ်သော လယ်ယာထွက်ကုန်ပစ္စည်းများ၊ ပဲမျိုးစုံ၊ နှမ်းစသည့် ဆီထွက်သီးနှံများနှင့်ဆက်စပ်သည့်စီးပွားရေးလုပ်ငန်းများနှင့်အထောက် အကူပြုအဆောက်အအုံများအကောင်အထည်ဖော် တည်ဆောက်ထား ရန် ရည်ရွယ်ထားကြောင်း။<br>- စီမံကိန်းလုပ်ငန်းတစ်ခုလုံးကို (၃)နှစ်အတွင်း ပြီးစီးအောင် တည် ဆောက်သွားမည် ဖြစ်ကြောင်း။<br>- စုစုပေါင်းဝင်ငွေတွက်ချက်ရာတွင် ပါဝင်သည့် မြေငှားရမ်းခဝင်ငွေ၌ စီးပွားရေး လုပ်ငန်းဆောင်တာများအတွက် လျာထားသည့် မြေဧရိယာ ၂၀.၀၆ ဧက ခန့် အတွက် တစ်နှစ်မြေ ၁ ဧကကို ကျပ် ၆,၄၈၆,၄၉၀ နှုန်းဖြင့် ကျပ် ၁၃၀,၁၁၈,၉၈၉ (သို့) ထပ်ဆင့်ငှားရမ်းခြင်းမှ ရရှိသည့် ဝင်ငွေအပေါ်သက်ဆိုင်ရာနှစ်အလိုက် သတ်မှတ်ရာခိုင်နှုန်းအရ ကျသင့် သည့်ငွေ နှစ်ရပ် အနက်များရာကို ပေးဆောင်ရမည် ဖြစ်ကြောင်း။ |

| | | |
|---|---|---|
| | | - ထပ်ဆင့်ငှားရမ်းခြင်းမရှိပါက ကျပ် ၁၃၀,၁၁၈,၉၈၉ ထည့်သွင်းတွက်ချက်၍ သက်ဆိုင်ရာနှစ်အလိုက် သတ်မှတ်ရာခိုင်နှုန်းထား အရ MPA သို့ ပေးဆောင်ရမည်ဖြစ်ကြောင်း။<br>- MAPCO သည် ကျောထောက်နောက်ခံမြေ ဧရိယာ ၂၀.၀၆ကေခန့်တွင် စီးပွားရေးဆိုင်ရာ လုပ်ငန်းဆောင်တာများကို အကောင်အထည် ဖော်ရန် ဆောင်ရွက်ရန် ကော်မရှင်သို့ ထပ်မံတင်ပြ၍ ခွင့်ပြုချက် ရယူကာ အခြားရင်းနှီးမြှုပ်နှံသူများသို့တစ်ဆင့် ငှားရမ်းခွင့်ပြုရန် ဖြစ်ကြောင်း။<br>- MAPCO သည် အငှားချထားသည့် မြေနေရာတွင် လယ်ယာ လုပ်ကိုင်လျက်ရှိသောလယ်သမားများအတွက် ကရုဏာ ထောက်ပံ့ကြေးငွေများကို ညှိနှိုင်းဆောင်ရွက်ပေးပြီး ဖြစ်ကြောင်း။<br>- ကော်မရှင်သို့ အဆိုပြုချက်အား တင်ပြရန်အတွက် ပို့ဆောင်ရေး ဝန်ကြီးဌာန၊ စီမံခန့်ခွဲမှုကော်မတီအစည်းအဝေး ၂၀/၂၀၁၄ (၂၂-၁၁-၂၀၁၄) က သဘောတူခွင့်ပြုထားပြီး ဖြစ်ကြောင်း။ |
| ၁၄။ | ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်နှင့်အညီ BOT ပဋိညာဉ်စာချုပ် (မူကြမ်း)နှင့် မြေငှားစာချုပ် (မူကြမ်း)ပါ အဓိကအချက်များ | - မြေအသုံးချမှုပရီမီယံကြေးအတွက် မြေ ၁ကေလျှင် ကျပ် ၁၅၀ သိန်းဖြင့် စုစုပေါင်း မြေဧရိယာ ၃၇.၀၆ ဧကအတွက် ကျပ် ၅၅၅,၉၀၀,၀၀၀ ကို အောက်ပါ အတိုင်း ပေးချေရပါမည်-<br>(က) ပထမအရစ်အဖြစ် မြေအသုံးချမှုပရီမီယံကြေး၏ ၅၀% ဖြစ်သော ကျပ် ၂၇၇,၉၅၀,၀၀၀ ကို မြေငှားစာချုပ် လက်မှတ်ရေးထိုးပြီး ရက်ပေါင်း ၃၀ အတွင်း ပေးချေရပါမည်။<br>(ခ) ဒုတိယအရစ်အဖြစ် မြေအသုံးချမှုပရီမီယံကြေး၏ ၅၀% ဖြစ်သောကျပ် ၂၇၇,၉၅၀,၀၀၀ ကို မြေငှားစာချုပ် လက်မှတ်ရေးထိုးပြီး တစ်နှစ်အတွင်းပေးချေရပါမည်။**(မြေငှား စာချုပ်အပိုဒ် ၂)**<br>- နှစ်စဉ်မြေငှားရမ်းခ နှုန်းထားများမှာ စာချုပ်၏ နောက်ဆက်တွဲ (ဂ)တွင် ဖော်ပြထားသည့်အတိုင်း စုစုပေါင်းဆိပ်ကမ်း အခွန်အခဝင်ငွေကို တွက်ချက်ပြီး စီမံကိန်း လုပ်ငန်းမှ ဝင်ငွေ ရရှိသည့်နေ့မှစ၍ မြေငှားရမ်းခကို အောက်ပါအတိုင်း ပေးချေရပါမည်- **(BOT စာချုပ်အပိုဒ် ၃-၁)**<br>(က) ပထမနှစ်မှ(၁၀)နှစ်မြောက်အတွက်စုစုပေါင်းဝင်ငွေ၏ ၆ %<br>(ခ) (၁၁)နှစ်မှ (၂၀)နှစ်မြောက် အတွက် စုစုပေါင်း ဝင်ငွေ၏ ၁၂ %<br>(ဂ) (၂၁)နှစ်မှ (၃၅)နှစ်မြောက် အတွက် စုစုပေါင်း ဝင်ငွေ၏ ၁၈ %<br>(ဃ) (၃၆)နှစ်မြောက်နှင့်အထက်အတွက် စုစုပေါင်း ဝင်ငွေ၏ ၂၀ %<br>- လုပ်ငန်း လုပ်ကိုင်ခွင့် ကာလသက်တမ်းမှာ ကနဦး ၅၀ နှစ် နှင့် ကော်မရှင် ခွင့်ပြုချက်ဖြင့် တစ်ကြိမ်လျှင် ၁၀ နှစ် ဖြင့် ၂ ကြိမ် တိုးမြှင့်နိုင်သည်။ လုပ်ငန်းကနဦး သက်တမ်း စတင်မှုကို ဤသဘောတူ စာချုပ်အား စာချုပ်ဝင်နှစ်ဦး လက်မှတ် ရေးထိုးပြီးသည့်နေ့မှစ၍ ကနဦး ၅၀ နှစ်ဖြစ်သည်။ **(BOT စာချုပ်အပိုဒ် ၁၂-၂၊ ၁၂-၃)** |

| | | |
|---|---|---|
| ၁၅။ | စိစစ်တင်ပြချက် | - စီးပွားရေးလုပ်ငန်းဆောင်တာများ ဆိုသည်မှာ ဖော်ထုတ်ထားသော မြေပေါ်၌ " ဆန်နှင့် ကောက်ပဲသီးနှံသိုလှောင်ခြင်း (Warehouses and Silos)၊ ထုပ်ပိုးခြင်းနှင့် သင်္ဘောတင်သယ်ယူနိုင်ရန်အတွက် ပြင်ဆင်ခြင်းလုပ်ငန်း၊ သင်္ဘောစောင့်ဆိုင်းစဥ်ကာလ Warehouse များတွင် သိုလှောင်ခြင်း၊ ငှားရမ်းခြင်း၊ လိုအပ်ပါက Export Quality ဆန်များကို fumigation ပြုလုပ်ခြင်းလုပ်ငန်း၊ Warehouse မှ export ဆန်နှင့် ကောက်ပဲသီးနှံများကို သင်္ဘောပေါ်အရောက်တင်ပို့ခြင်း စသည့်စီးပွားရေး လုပ်ငန်းနှင့် သက်ဆိုင်သော အဆောက်အအုံများကို ဆောက်လုပ်၍ မြန်မာနိုင်ငံသား၊ နိုင်ငံခြား၊ ဖက်စပ်လုပ်ကိုင်ခြင်းကို လည်းကောင်း၊ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံအစိုးရက ထုတ်ပြန် ကြေညာချက်အရ လည်းကောင်း ခွင့်ပြုထားသော စီးပွားရေး လုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ခြင်းကို ဆိုလိုခြင်းဖြစ်သည်။ **(BOT စာချုပ် အပိုဒ် ၁-၂)**<br>- မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သည် ဖွံ့ဖြိုးအောင်ဖော်ထုတ်ထားသည့် မြေပေါ်တွင် ရင်းနှီးမြှုပ်နှံသူများမှ စီးပွားရေးလုပ်ငန်း ဆောင်တာများ အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရန် MAPCO အနေဖြင့် ထပ်ဆင့်ငှားရမ်းသည့် စာချုပ်များချုပ်ဆိုနိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုချက် ရရှိအောင် ကူညီပံ့ပိုးပေးပါမည်။ **(BOT စာချုပ် အပိုဒ် ၆-၇)**<br>- မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သီလဝါဆိပ်ကမ်း ဖွံ့ဖြိုးတိုးတက်ရေး စီမံကိန်းနေရာရှိ ဆိပ်ကမ်းမြေနေရာအား ငှားရမ်းသုံးစွဲ ခွင့်ပြုခြင်းအပေါ် လုပ်ငန်းဆောင်ရွက်ရန်အတွက် MAPCO အား မြန်မာနိုင်ငံဆန်စပါးကဏ္ဍ ဖွံ့ဖြိုးတိုးတက်ရေး၊ ပြည်ပသို့ဆန်စပါးပိုမိုတင်ပို့ရောင်းချနိုင်ရေးအတွက် သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ် ၂၈ ကို (၄-၅-၂၀၁၃)ရက်စွဲပါစာဖြင့် မြေနေရာချထားခြင်းဖြစ်ကြောင်း ပို့ဆောင်ရေး ဝန်ကြီးဌာနသို့ အကြောင်းကြားခဲ့ပြီးဖြစ်ပါသည်။<br>- MAPCO မှ ဆိပ်ခံတံတားအမျိုးအစားအနေဖြင့် သံကူကွန် ကရစ်ဆိပ်ခံတံတား၊ အရွယ်အစား အနေဖြင့် မျက်နှာစာအလျား ၁၈၀ မီတာ၊ အကျယ် ၃၀ မီတာ၊ ဆန်နှင့် ကောက်ပဲသီးနှံ သိုလှောင်ရုံ (၈)လုံး၊ ကောက်ပဲသီးနှံ သိုလှောင်သည့် Silo ၂၅၀၀ MTအရွယ် (၁၂)လုံး၊ ကုန်သေတ္တာလွင်ပြင် အရွယ်အစား အလျား ၇၀၀ ပေ x အနံ ၅၅၀ ပေ တည်ဆောက်မည် ဖြစ်ပါသည်။<br>- Processing Complex ဧရိယာ ၁.၃၈ ဧက ပါဝင်ပြီး ယင်းနေရာတွင် Export Quality ဆန်များကို fumigation ပြုလုပ်ပြီး တင်ပို့မည်ဖြစ်ကြောင်းစိစစ်တွေ့ရှိရပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၄/မ-၁၅၂၁/၂၀၁၆( ၄၁၉ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် မတ်လ ၁၆ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **Myanmar Agribusiness Public Corporation Limited (MAPCO) မှ ဆန်နှင့်ကောက်ပဲသီးနှံတင်ချရန် ခေတ်မီအပြည့်ပြည့်ဆိုင်ရာ ဘက်စုံသုံးဆိပ်ခံတံတားနှင့် စီးပွားရေးလုပ်ငန်းဆောင်တာများ၏ ဆက်စပ် အဆောက် အအုံများ အကောင်အထည်ဖော် တည်ဆောက်ကာ BOT စနစ်ဖြင့် လုပ်ငန်း လုပ်ကိုင်ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်းကိစ္စ**

၁။ Myanmar Agribusiness Public Corporation Limited (MAPCO)မှ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ် (၂၈)၊ မြေဧရိယာ(၃၇.၀၆)ဧကတွင် BOTစနစ်ဖြင့် ဆန်နှင့်ကောက်ပဲသီးနှံတင်ချရန် ခေတ်မီအပြည့်ပြည့်ဆိုင်ရာဘက်စုံသုံးဆိပ်ခံတံတားနှင့် စီးပွားရေးလုပ်ငန်းဆောင်တာများ၏ ဆက်စပ်အဆောက်အဦများ အကောင်အထည်ဖော်တည်ဆောက်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် လုပ်ကိုင်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးရဲမင်းအောင်မှ ပို့ဆောင်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းကို ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၂၅ ရက်နေ့တွင် ကျင်းပပြုလုပ်သော အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၄/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ စီးပွားရေးလုပ်ငန်း ဆောင်တာများ၏ ဆက်စပ်အဆောက်အအုံများ တည်ဆောက်ခြင်းလုပ်ငန်းဆိုသည်မှာ ဆန်နှင့် ကောက်ပဲသီးနှံသိုလှောင်ခြင်း (Warehouses and Silos)၊ ထုပ်ပိုးခြင်းနှင့် သင်္ဘောတင်သယ်ယူနိုင်ရန်အတွက် ပြင်ဆင်ခြင်းလုပ်ငန်း၊ သင်္ဘောစောင့်ဆိုင်းစဥ်ကာလ Warehouse များတွင် သိုလှောင်ခြင်း၊ ငှားရမ်းခြင်း၊ လိုအပ်ပါက Export Quality ဆန်များ ကို fumigation ပြုလုပ်ခြင်း လုပ်ငန်း၊ Warehouse မှ export ဆန်နှင့် ကောက်ပဲသီးနှံများကို သင်္ဘောပေါ် အရောက်တင်ပို့ခြင်းများပြုလုပ်မည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်းအတွက်အသုံးပြုမည့် မြေ ၃၇.၀၆ ဧကအား အောက်ပါအတိုင်း ဧရိယာများ ခွဲခြားတည်ဆောက်မည်ဖြစ်ပါသည်-

| စဉ် | အကြောင်းအရာ | မြေဧရိယာ (ဧက) |
|---|---|---|
| ၁။ | Container Yard Area | ၁၇.၀၀ |
| ၂။ | Commercial Activities Area | |
| | - Warehouses | ၅.၃၄ |
| | - Processing complex | ၁.၃၈ |
| | - Silo | ၀.၉၂ |
| | - Freight Station | ၀.၉၂ |

| စဉ် | အကြောင်းအရာ | မြေဧရိယာ (ဧက) |
|---|---|---|
| | - Truck holding area | ၀.၇၂ |
| | - Packing house | ၀.၅၁ |
| | - Office Building | ၀.၃၅ |
| | - Water Storage | ၀.၁၃ |
| | - Workshop | ၀.၁၈ |
| | - Power Sub Station | ၀.၀၈ |
| | - Fuel Station | ၀.၀၈ |
| | - Staff Car parking | ၀.၀၅ |
| | - Staff Canteen | ၀.၀၈ |
| | - Road Pavement | ၆.၆၃ |
| | - Other Activities Area | ၂.၆၉ |
| | စုစုပေါင်း | ၃၇.၀၆ |

၃။ ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင် နှင့် Myanmar Agribusiness Public Corporation Limited (MAPCO)တို့ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏သဘောထား မှတ်ချက် နှင့်အညီချုပ်ဆိုမည့် BOTစနစ်ဖြင့် မြေငှားရမ်းခြင်းစာချုပ်(မူကြမ်း)ပါ အဓိက အချက်များ မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) လုပ်ငန်း လုပ်ကိုင်ခွင့် ကာလသက်တမ်းမှာကနဦး ၅၀ နှစ်နှင့် ကော်မရှင်ခွင့်ပြုချက် ဖြင့်တစ်ကြိမ်လျှင် ၁၀ နှစ် ဖြင့် ၂ ကြိမ် တိုးမြှင့်နိုင်သည်။ လုပ်ငန်းကနဦး သက်တမ်း စတင်မှုကို ဤသဘောတူ စာချုပ်အား စာချုပ်ဝင်နှစ်ဦး လက်မှတ် ရေးထိုးပြီးသည့် နေ့မှစ၍ ကနဦး ၅၀ နှစ်ဖြစ်သည်။ **(BOT စာချုပ်အပိုဒ် ၁၂-၂၊ ၁၂-၃)**

(ခ) မြေအသုံးချမှုပရီမီယံကြေးအတွက် မြေ ၁ ဧကလျှင် ကျပ် ၁၅ သန်း ဖြင့် စုစုပေါင်း မြေဧရိယာ ၃၇.၀၆ဧကအတွက် ကျပ် ၅၅၅,၉၀၀,၀၀၀ကိုအောက်ပါအတိုင်းပေးချေ ရပါမည်- **(မြေငှားစာချုပ်အပိုဒ် ၂)**

(၁) ပထမအရစ်အဖြစ် မြေအသုံးချမှုပရီမီယံကြေး၏ ၅၀% ဖြစ်သော ကျပ် ၂၇၇,၉၅၀,၀၀၀ ကို မြေငှားစာချုပ်လက် မှတ် ရေးထိုးပြီး ရက်ပေါင်း ၃၀ အတွင်း ပေးချေရပါမည်။

(၂) ဒုတိယအရစ်အဖြစ် မြေအသုံးချမှုပရီမီယံကြေး၏ ၅၀% ဖြစ်သော ကျပ် ၂၇၇,၉၅၀,၀၀၀ ကို မြေငှားစာချုပ် လက်မှတ်ရေး ထိုးပြီး တစ်နှစ်အတွင်း ပေးချေရပါမည်။

(ဂ) နှစ်စဉ်မြေငှားရမ်းခ နှုန်းထားများမှာ ပဋိညာဉ်စာချုပ်၏ နောက်ဆက်တွဲ(ဂ)တွင် ဖော်ပြထားသည့်အတိုင်း စုစုပေါင်းဆိပ်ကမ်း အခွန်အခဝင်ငွေကို တွက်ချက်ပြီး

စီမံကိန်း လုပ်ငန်းမှဝင်ငွေ ရရှိသည့်နေ့မှစ၍ မြေငှားရမ်းခကို အောက်ပါအတိုင်း ပေးချေရပါမည်- (BOT စာချုပ်အပိုဒ် ၃-၁)

(၁) ပထမနှစ်မှ (၁၀)နှစ်မြောက် အတွက် စုစုပေါင်း ဝင်ငွေ၏ ၆ %

(၂) (၁၁)နှစ်မှ (၂၀)နှစ်မြောက် အတွက် စုစုပေါင်း ဝင်ငွေ၏ ၁၂ %

(၃) (၂၁)နှစ်မှ (၃၅)နှစ်မြောက် အတွက် စုစုပေါင်း ဝင်ငွေ၏ ၁၈ %

(၄) (၃၆)နှစ်မြောက်နှင့်အထက် အတွက် စုစုပေါင်း ဝင်ငွေ၏ ၂၀ %

(ဃ) ငှားရမ်းခ နှုန်းထားများကို (၅)နှစ် တစ်ကြိမ် ပြန်လည် ပြင်ဆင်သတ်မှတ်ရန်နှင့် စာချုပ်ပြန်လည် ချုပ်ဆိုသည့်အခါ ကာလဒေသပေါက်ဈေးနှင့် နှစ်ဖက် ညှိနှိုင်း၍ လက်ရှိ စာချုပ်ပါ ငှားရမ်းခ၏ ၁၀ % ထက် မပိုသော နှုန်းထားဖြင့် ပြန်လည် ပြင်ဆင်သတ်မှတ်သွားမည် ဖြစ်ပါသည်။

(င) စီးပွားရေးလုပ်ငန်းဆောင်တာများ ဆိုသည်မှာ ဖော်ထုတ်ထားသော မြေပေါ်၌ ဆန်နှင့်ကောက်ပဲသီးနှံသိုလှောင်ခြင်း (Warehouses and Silos)၊ ထုပ်ပိုးခြင်းနှင့် သင်္ဘော တင်သယ်ယူနိုင်ရန်အတွက် ပြင်ဆင်ခြင်းလုပ် ငန်း၊ သင်္ဘောစောင့်ဆိုင်းစဉ်ကာလ Warehouse များတွင် သိုလှောင်ခြင်း၊ငှားရမ်းခြင်း၊ လိုအပ်ပါက Export Quality ဆန်များကို fumigation ပြုလုပ်ခြင်းလုပ်ငန်း၊ Warehouse မှ export ဆန်နှင့် ကောက်ပဲသီးနှံများက သင်္ဘောပေါ်အရောက်တင်ပို့ခြင်းစသည့် စီးပွားရေး လုပ်ငန်းနှင့်သက်ဆိုင်သောအဆောက်အအုံများကိုဆောက်လုပ်၍ မြန်မာနိုင်ငံသား၊ နိုင်ငံခြား၊ ဖက်စပ်လုပ်ကိုင်ခြင်းကို လည်းကောင်း၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ အစိုးရက ထုတ်ပြန် ကြေညာချက်အရ လည်းကောင်း ခွင့်ပြုထားသော စီးပွားရေး လုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ခြင်းကို ဆိုလိုခြင်းဖြစ်သည်။ **(BOT စာချုပ် အပိုဒ် ၁-၂)**

(စ) မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သည် ဖွံ့ဖြိုးအောင်ဖော်ထုတ်ထားသည့် မြေပေါ်တွင် ရင်းနှီးမြှုပ်နှံသူများမှ စီးပွားရေးလုပ်ငန်းဆောင်တာများ အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရန် MAPCO အနေဖြင့် ထပ်ဆင့် ငှားရမ်းသည့် စာချုပ်များချုပ်ဆိုနိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အတည်ပြုချက်ရရှိအောင် ကူညီပံ့ပိုးပေးပါမည်။**(BOT စာချုပ် အပိုဒ် ၆-၇)**

၄။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု သက်တမ်းကာလမှာ ကနဦး(၅၀)နှစ်နှင့် နောက်ထပ် ၁၀ နှစ် ၂ ကြိမ် တိုးမြှင့်မည်ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ (၃)နှစ် (၆) လ ဖြစ်ပြီး ပဏာမ စူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလမှာ ၆ လ ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ ၄၈.၇၆ သန်း အပါအဝင် စုစုပေါင်း ကျပ်သန်း ၉၃၂၆၁.၄၁ ဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | | |
|---|---|---|---|---|
| **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **ကျပ်** | **၉၃၂၆၁.၄၁** | **သန်း** | **(US$၄၈.၇၆ သန်းအပါအဝင်)** |
| **ဆိပ်ခံတံတားနှင့်ဆက်နွယ်လုပ်ငန်းများ (ရေပိုင်း)** | | | | |
| - ရှေ့ဆိပ်ခံ(၁၈၀ မီတာ X ၃၀ မီတာ) | ကျပ် | ၁၈၀၁၃.၅၈ | သန်း | (US$ ၁၀.၀၉ သန်းအပါအဝင်) |
| - တံတားချဉ်းကပ်လမ်းကျောက်ခုံ | ကျပ် | ၄၁၇.၉၅ | သန်း | |
| - ကမ်းပါးထိမ်းရေကာတာရိုး တည်ဆောက်ခြင်း | ကျပ် | ၂၆၅.၈၀ | သန်း | |
| - သောင်တူးဖော်ခြင်းနှင့် ဖယ်ရှားခြင်း | ကျပ် | ၁၉.၂၀ | သန်း | |
| **ဆိပ်ခံတံတားနှင့်ဆက်နွယ်လုပ်ငန်းများ(ကုန်းပိုင်း)** | ကျပ် | ၃၃၀၀၄.၈၀ | သန်း | (US$ ၄.၆၆ သန်းအပါအဝင်) |
| **စက်ပစ္စည်းကိရိယာတန်ဖိုး ပမာဏ** | ကျပ် | ၃၁၈၁၆.၈၀ | သန်း | (US$ ၂၆.၅၁ သန်းအပါအဝင်) |
| **ရုံးသုံးပရိဘောဂများ** | ကျပ် | ၂၀.၀၀ | သန်း | |
| **ငွေသား** | ကျပ် | ၉၆၀၃.၂၇ | သန်း | (US$ ၇.၅၀ သန်းအပါအဝင်) |

(1 USD = 1200ks)

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းမှ ဝန်ထမ်း (၁၈၉)ဦး ခန့်ထားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ ပြည်တွင်း ဝန်ထမ်း(၁)ဦး၏အနိမ့်ဆုံး လစာမှာ ကျပ် ၁၁၂၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၅၀၀၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း (၂၀) ဦးခန့်ထားမည်ဖြစ်ပြီး ပြည်ပဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၁၅၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ်(၆)နှစ်မြောက်တွင် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်မှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(1 USD =1200 ks)

| စဉ် | ဝန်ဆောင်နိုင်မှု | US$ (သန်း) | ကျပ် (သန်း) | စုစုပေါင်း (ကျပ်)သန်း |
|---|---|---|---|---|
| (က) | Jetty Relating Income | ၁၂.၄၉ | | ၁၄၉၈၂.၁၆ |
| (ခ) | Terminal Income | | ၆၆၃၃.၅၀ | ၆၆၃၃.၅၀ |
| (ဂ) | Processing Packing & Warehousing | | ၁၂၈၁၆.၀၀ | ၁၂၈၁၆.၀၀ |
| | **စုစုပေါင်း** | **၁၂.၄၉** | **၁၉၄၄၉.၅၀** | **၃၄၄၃၁.၆၆** |

၈။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည် -

| | | ကျပ် (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၃၄၄၃၁.၆၆ |
| (ခ) | အသုံးစရိတ် | ၃၀၁၄၈.၆၉ |
| (ဂ) | အသားတင်အမြတ် | ၄၂၈၂.၉၇ |

၉။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ်လုပ်ငန်းခွန် US$ ၀.၅၉ သန်းနှင့် ကျပ် ၉၂၆.၁၇ သန်း နှင့် ဝင်ငွေခွန် ကျပ် ၁၄၂၇.၆၆ သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၈)နှစ်(၅)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၄.၃၇ % ဖြစ်ပါသည်။

၁၀။ ယင်းအဆိုပြုလုပ်ငန်း နှင့်စပ်လျဥ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

(၁) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်း မရှိပါကြောင်း။

(၂) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၁၈၉)ဦး အလုပ်အကိုင်ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်ပါကြောင်း။

(၃) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သန်လျင်ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်း၊ မြေကွက်အမှတ်(၂၉)၊ မြေဧရိယာ (၃၇.၀၆)ဧက အား ပထမနှစ်မှ ၁၀ နှစ်အထိ စုစုပေါင်းဝင်ငွေ၏ ၆%၊ ၁၁ နှစ်မှ ၂၀နှစ် အထိ စုစုပေါင်းဝင်ငွေ၏ ၁၂ %၊ ၂၁ နှစ်မြောက်မှ ၃၅ နှစ်အထိ စုစုပေါင်းဝင်ငွေ၏ ၁၈ %၊ ၃၆ နှစ်အထက် စုစုပေါင်းဝင်ငွေ၏ ၂၀ % နိုင်ငံတော်မှ ရရှိမည်ဖြစ်ပါကြောင်းနှင့် ၅၀ နှစ် + ၁၀ နှစ် + ၁၀နှစ် စုစုပေါင်း နှစ်(၇၀)ငှားရမ်း လုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါကြောင်း။

(၄) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါကြောင်း။

(၅) ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၁၁ ရက်နေ့တွင်ကျင်းပသောရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၏ (၇/၂၀၁၆)ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက်အပိုဒ် (၆၁) အရ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအားခွင့်ပြုသင့်ပါကြောင်း။

(ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန (နောက်ဆက်တွဲ-ခ)

(၁) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျှော့နည်းစေရန်အတွက်လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးအကျိုးပြုလုပ်ငန်းများအတွက် အသားတင်အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များအားလိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၂) အဆိုပြုလုပ်ငန်းများဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေရေးတို့အတွက် အဆိုပြုလွှာတွင်တင်ပြထားသည့် ဆောင်ရွက်ထားပြီးဖြစ်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု ဆန်းစစ်ခြင်း (Environmental and Social Impact Assessment-ESIA) အစီရင်ခံစာကို ဝန်ကြီးဌာနသို့ အတည်ပြုချက်ရရှိအောင်ထိ ဆက်လက်တင်ပြသွားရန်။

(၃) အထက်ပါ လေ့လာဆန်းစစ်မှုရလာဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုများ မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သည့်ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ ပို့ဆောင်ရေးဝန်ကြီးဌာန မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ ချမှတ်ထားသော ဥပဒေ၊ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ စည်းကမ်းချက်များနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန်။

**(ကုမ္ပဏီမှ အထက်ပါသဘောထားမှတ်ချက်နှင့်အညီ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက် မှု ဆန်းစစ်ချက် (Environmental and Social Impact Assessment - ESIA) အစီရင်ခံစာအား မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ Third Party အနေဖြင့်ဆောင်ရွက်၍ ရေးဆွဲကာ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနသို့ (၅-၂-၂၀၁၆) ရက်စွဲပါစာဖြင့် ပေးပို့ထားပြီးပါသည်။)**

(ဂ) ပို့ဆောင်ရေးဝန်ကြီးဌာန (နောက်ဆက်တွဲ-ဂ)

(၁) MAPCO အား ဆန်နှင့် ကောက်ပဲသီးနှံထွက်ကုန်များဖြစ်သည့် ပဲမျိုးစုံ နှင့်နှမ်းစသည့်ကုန်ပစ္စည်းများ ကိုင်တွယ်နိုင်သည့်ဆိပ်ခံတံတားလုပ်ကိုင် ဆောင်ရွက်ရန်အတွက် သီလဝါဆိပ်ကမ်းဒေသရှိ အကွက်အမှတ်(၂၈) အား ကော်မရှင်မှ သတ်မှတ်ပေးပြီး ဖြစ်ပါကြောင်း။

(၂) မြေဧရိယာ ၃၇.၀၆ ဧကရှိသည့်အနက် မြေဧရိယာ ၁၇ ဧကခန့် ကို ဆိပ်ကမ်းလုပ်ငန်းနှင့် သက်ဆိုင်သည့် အထောက်အကူပြု အဆောက်အအုံများကို အကောင်အထည်ဖော် ဆောင်ရွက်ရန် ရည်ရွယ်ထားပြီး မြစ်ကမ်း နဖူးတွင် မျက်နှာစာ အလျား ၁၈၀ မီတာ × အကျယ်၃၀မီတာ အရွယ်ရှိ ပဲမျိုးစုံနှင့် နှမ်းစသည့်ကုန်ပစ္စည်းများ ကိုင်တွယ်နိုင်သည့်ခေတ်မီအပြည့်ပြည့်ဆိုင်ရာ ဘက်စုံသုံး ဆိပ်ခံတံတားတစ်စင်းကို အကောင်အထည်ဖော် ဆောင်ရွက်သွားရန် ရည်ရွယ်ထားကြောင်း။

(၃) ကျန်မြေဧရိယာ ၂၀.၀၆ ဧကခန့်ပေါ်တွင် စီးပွားရေးလုပ်ငန်းဆောင်တာများဖြစ်သော လယ်ယာထွက်ကုန်ပစ္စည်းများ၊ ပဲမျိုးစုံ၊ နှမ်းစသည့် ဆီထွက်သီးနှံများနှင့် ဆက်စပ်သည့် စီးပွားရေးလုပ်ငန်းများနှင့် အထောက်အကူပြု အဆောက်အအုံများ အကောင်အထည်ဖော် တည်ဆောက်ထားရန် ရည်ရွယ်ထားကြောင်း။

(၄) စီမံကိန်းလုပ်ငန်းတစ်ခုလုံးကို (၃)နှစ်အတွင်း ပြီးစီးအောင် တည်ဆောက်သွားမည် ဖြစ်ကြောင်း။

(၅) စုစုပေါင်းဝင်ငွေတွက်ချက်ရာတွင် ပါဝင်သည့် မြေငှားရမ်းခဝင်ငွေ၌ စီးပွားရေးလုပ်ငန်းဆောင်တာများအတွက် လျာထားသည့် မြေ ၂၀.၀၆ဧက ခန့်အတွက်တစ်နှစ်မြေ ၁ ဧကကို ကျပ် ၆,၄၈၆,၄၉၀ နှုန်းဖြင့် ကျပ် ၁၃၀,၁၁၈,၉၈၉ (သို့) ထပ်ဆင့်ငှားရမ်းခြင်းမှ ရရှိသည့် ဝင်ငွေ အပေါ် သက်ဆိုင်ရာနှစ်အလိုက် သတ်မှတ်ရာခိုင်နှုန်းအရ ကျသင့်သည့် ငွေနှစ်ရပ်အနက်များရာကို ပေးဆောင်ရမည် ဖြစ်ကြောင်း။

(၆) ထပ်ဆင့်ငှားရမ်းခြင်းမရှိပါက ကျပ် ၁၃၀,၁၁၈,၉၈၉ ထည့်သွင်း တွက်ချက်၍ သက်ဆိုင်ရာနှစ်အလိုက် သတ်မှတ်ရာခိုင်နှုန်းထားအရ MPA သို့ ပေးဆောင်ရမည်ဖြစ်ကြောင်း။

(၇) MAPCO သည် ကျောထောက်နောက်ခံမြေဧရိယာ ၂၀.၀၆ ဧကခန့် တွင် စီးပွားရေးဆိုင်ရာ လုပ်ငန်းဆောင်တာများကို အကောင်အထည်ဖော် ဆောင်ရွက်ရန် ကော်မရှင်သို့ ထပ်မံတင်ပြ၍ ခွင့်ပြုချက် ရယူကာ အခြားရင်းနှီးမြှုပ်နှံသူများသို့ တစ်ဆင့် ငှားရမ်းခွင့်ပြုရန် ဖြစ်ကြောင်း။

(၈) MAPCO သည် အငှားချထားသည့် မြေနေရာတွင် လယ်ယာ လုပ်ကိုင် လျက်ရှိသောလယ်သမားများအတွက် ကရုဏာ ထောက်ပံ့ကြေးငွေများကို ညှိနှိုင်း ဆောင်ရွက်ပေးပြီး ဖြစ်ကြောင်း။

(၉) ကော်မရှင်သို့ အဆိုပြုချက်အား တင်ပြရန်အတွက် ပို့ဆောင်ရေးဝန်ကြီးဌာန၊ စီမံခန့်ခွဲမှုကော်မတီအစည်းအဝေး ၂၀/၂၀၁၄(၂၂-၁၁-၂၀၁၄)ကသဘောတူခွင့်ပြု ထားပြီး ဖြစ်ကြောင်း။

(ဂ) **မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း** **(နောက်ဆက်တွဲ-ဃ)**

(၁) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၊ MIC Projects Assessment Committee အနေဖြင့် ရန်ကုန်တိုင်းတွင်တည်ဆောက်မည့် လယ်ယာထွက်ကုန်အပြည်ပြည်ဆိုင်ရာဆိပ်ခံတံတားနှင့် အထောက်အကူပြု အဆောက်အအုံများ တည်ဆောက်ခြင်းလုပ်ငန်း အတွက် တည်ဆောက်မှုတွင် သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့် အညီ တည်ဆောက်ရန်နှင့် စံချိန်စံညွှန်းမီ တည်ဆောက်ရေးပစ္စည်းများ အသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန်မရှိပါကြောင်း။

(၂) အဆောက်အဦပိုင်းတွင် ပြည်ပမှတင်သွင်းမည့် တစ်ဖက်ပါ ဆောက်လုပ်ရေးပစ္စည်းများနှင့် အရေအတွက်ကို ထောက်ခံပါကြောင်း-

| စဉ် | ပစ္စည်းအမျိုးအစား | MIC စာအုပ်ပါ အရေအတွက် | BQ တွင် ပါဝင်သော အရေအတွက် | ထောက်ခံတင်ပြသော အရေအတွက် |
|---|---|---|---|---|
| ၁။ | Cement | ၆၃၂၈၇ MT | ၆၃၂၈၇ MT | ၁၈၃၀၉ MT |
| ၂။ | Rebar | ၁၁၈၉၇ MT | ၁၁၈၉၇ MT | ၂၉၇၁ MT |
| ၃။ | 1000 mm PSC Pile | ၄၇၂၀ m | ၄၇၂၀ m | ၄၆၄၈ m |
| ၄။ | 900 mm PSC Pile | ၃၃၆၈ m | ၃၃၆၈ m | ၃၂၄၈ m |
| ၅။ | 800 mm PSC Pile | ၃၂၅၀ m | ၃၂၅၀ m | ၃၀၂၄ m |
| ၆။ | 600 mm PSC Pile | ၆၃၅၈ m | ၆၃၅၈ m | ၅၇၁၂ m |

MT = မက်ထရစ်တန်၊ M = မီတာ

(၃) ယခုတင်ပြသော စီမံကိန်းကို စိစစ်ရာတွင်တင်ပြသောဒီဇိုင်းများသည် အမှန်တကယ် အသေးစိတ် တည်ဆောက်မည့် ပုံစံ၊ ဒီဇိုင်းများနှင့် ကွဲလွဲမှုရှိမည် ဆိုပါက ယခုတွက်ချက်ထားသော ပစ္စည်းအရေတွက်များမှာ အမှန်တကယ် သုံးစွဲမည့် အရေအတွက်နှင့် ကွာခြားနိုင်ပါသဖြင့် လိုအပ်ပါက Detail Estimate ရရှိသည့် အခါတွင် ပြန်လည်စိစစ်မှုများဆောင်ရွက်ရန် လိုအပ်ပါကြောင်း (Subject to Check)

(၄) သက်ဆိုင်ရာ မီးသတ်ဦးစီးဌာနမှ ချမှတ်ထားသော လမ်းညွှန်ချက်များအတိုင်း လိုက်နာမည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း။

**(ကုမ္ပဏီမှ မြန်မာနိုင်ငံ အင်ဂျင်နီယာ အသင်း၏ ထောက်ခံချက်နှင့်အညီ ပြည်ပမှ တင်သွင်းမည့် ဆောက်လုပ်ရေးပစ္စည်းများကို ၁၅-၂-၂၀၁၅ ရက်နေ့တွင် ပြင်ဆင် တင်ပြလာပါသည်။)**

၁၁။ ငွေကြေးအထောက်အထားအဖြစ် Myanma Apex Bank တွင် ၂၈-၉-၂၀၁၅ နေ့ရက်တွင် Myanmar Agribusiness Public Corporation အမည်ဖြင့် လက်ကျန်ငွေအဖြစ် အမေရိကန် ဒေါ်လာ ၁၅၀,၄၁၂.၅၆ ရှိကြောင်း တင်ပြ ထားပါသည်။

၁၂။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်မှု မရှိပါကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ပါကြောင်း၊ သက်ဆိုင်ရာဌာန/ အဖွဲ့အစည်းအစည်း အသီးသီးမှ ညွှန်ကြားချက်များကို သိရှိလိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။ မီးဘေး ကြိုတင်ကာကွယ်တားဆီးရေး စီမံချက်ကို တင်ပြထားပါသည်။

၁၃။ ဝန်ထမ်းများသက်သာချောင်ချိရေးအနေဖြင့် ဝန်ထမ်းများ အသွား/အပြန် ဖယ်ရီယာဉ် ကြို/ပို့ အခမဲ့စနစ်ဖြင့် ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ သန့်ရှင်းသော ထမင်း၊ ဟင်း မုန့်မျိုးစုံတို့အား လုပ်ငန်း ခွင်ရှေ့တွင် ရောင်းချခွင့်ပြုထားပါကြောင်း၊ အချိန်ပိုဆင်းရသောနေ့များတွင် အချိန်ပိုကြေး ထောက်ပံ့သွားမည်ဖြစ်ကြောင်း၊ ထိခိုက်ဒဏ်ရာရရှိပါက လူမှုဖူလုံရေးဆေးခန်းသို့ စေလွှတ်၍ ဆေးကုသမှု ခံယူစေမည်ဖြစ်ပြီး လူမှုဖူလုံရေးထည့်ဝင်ငွေများအားလည်း အလုပ်ရှင်ပိုင်၊ အလုပ် သမားပိုင်းပါ လစာထည့်ဝင်လျက် ပေးသွင်းလျက်ရှိကြောင်း တင်ပြထားပါသည်။

၁၄။ ကုမ္ပဏီမှ CSR (Corporate Social Responsibility) အတွက် နှစ်စဉ်အသားတင်အမြတ်၏ ၂ % ကို သုံးစွဲရန် လျာထားပြီး ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၅။ လျှပ်စစ်ဓါတ်အား အသုံးပြုမှုအနေဖြင့် ၃၁၅ KVA သုံးစွဲမည်ဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၆။ (က) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သီလဝါဆိပ်ကမ်း ဖွံ့ဖြိုးတိုးတက်ရေး စီမံကိန်း နေရာရှိ ဆိပ်ကမ်းမြေနေရာအားငှားရမ်းသုံးစွဲခွင့်ပြုခြင်းအပေါ် လုပ်ငန်း ဆောင်ရွက်ရန် အတွက် MAPCO အား မြန်မာနိုင်ငံ ဆန်စပါးကဏ္ဍ ဖွံ့ဖြိုးတိုးတက်ရေး၊ ပြည်ပသို့ ဆန်စပါးပိုမိုတင်ပို့ရောင်းချ နိုင်ရေးအတွက် သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ် ၂၈ ကို (၄-၅-၂၀၁၃) ရက်စွဲပါစာဖြင့် မြေနေရာချထားခြင်း ဖြစ်ကြောင်း ပို့ဆောင်ရေး ဝန်ကြီးဌာနသို့ အကြောင်းကြားခဲ့ပြီးဖြစ်ပါသည်။

(ခ) MAPCO မှ ဆိပ်ခံတံတားအမျိုးအစားအနေဖြင့် သံကူကွန် ကရစ်ဆိပ်ခံ တံတား၊ အရွယ်အစား အနေဖြင့် မျက်နှာစာအလျား ၁၈၀ မီတာ၊ အကျယ် ၃၀ မီတာ၊ ဆန်နှင့် ကောက်ပဲသီးနှံ သိုလှောင်ရုံ (၈)လုံး၊ ကောက်ပဲသီးနှံ သိုလှောင်သည့် Silo ၂၅၀၀

MTအရွယ် (၁၂)လုံး၊ ကုန် သေတ္တာလွင်ပြင် အရွယ်အစား အလျား ၇၀၀ ပေ X အနံ ၅၅၀ ပေ တည်ဆောက်မည် ဖြစ်ပါသည်။

(ဂ) Processing Complex ဧရိယာ ၁.၃၈ ဧက ပါဝင်ပြီး ယင်းနေရာတွင် Export Quality ဆန်များကို fumigation ပြုလုပ်ပြီး တင်ပို့မည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၁၇။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ပုဒ်မ ၂၀၀၊(က၊ဂ၊စ၊ဆ၊ဈ၊ည)အရ အခွန်အကောက်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို ကော်မရှင်သို့ တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၈။ Myanmar Agribusiness Public Corporation Limited (MAPCO)မှ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ်(၂၈)၊ မြေဧရိယာ (၃၇.၀၆)ဧကတွင် BOTစနစ်ဖြင့် ဆန်နှင့်ကောက်ပဲသီးနှံတင်ချရန် ခေတ်မီအပြည့်ပြည့်ဆိုင်ရာဘက်စုံသုံးဆိပ်ခံတံတားနှင့် စီးပွားရေးလုပ်ငန်းဆောင်တာများ၏ ဆက်စပ်အဆောက်အဦများ အကောင်အထည်ဖော်တည်ဆောက်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ပို့ဆောင်ရေးဝန်ကြီးဌာနမှတစ်ဆင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အဆိုပြုချက်တင်ပြခြင်းကိစ္စအပေါ် ခွင့်ပြုမိန့်ထုတ်ပေးရန်သဘောတူ-မတူ။

ဥက္ကဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ-က

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီ လ ၁၇ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၆. ၁. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရက - ၄/ မ-၁၅၂၁/၂၀၁၆(၁၁၀)

၁။ Myanmar Agribusiness Public Corporation Limited (MAPCO) မှ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ်(၂၈)၊ မြေဧရိယာ(၃၇. ၀၆)ဧကတွင် BOT စနစ်ဖြင့် ဆန်နှင့်ကောက်ပဲသီးနှံတင်ချရန် ခေတ်မီအပြည့်ပြည့်ဆိုင်ရာဘက်စုံသုံး ဆိပ်ခံတံတားနှင့် စီးပွားရေး လုပ်ငန်းဆောင်တာများ၏ ဆက်စပ်အဆောက်အဦများ အကောင်အထည်ဖော် တည်ဆောက်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံ လာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား(၁၈၉)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်- ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ်(၂၈)၊ မြေဧရိယာ(၃၇. ၀၆)ဧကအား ငှားရမ်းခအဖြစ် စုစုပေါင်းဝင်ငွေအပေါ် ပထမနှစ်မှ (၁၀)နှစ်မြောက်အထိ(၆%)၊ (၁၁)နှစ်မှ (၂၀)နှစ်မြောက်အထိ (၁၂%)၊ (၂၁)နှစ်မှ (၃၅)နှစ်မြောက်အထိ(၁၈%)၊ (၃၆)နှစ်မြောက်မှအထက်(၂၀%)ဖြင့် ငှားရမ်းစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ ကနဦး(၅၀)နှစ်နှင့် နောက်ထပ်(၁၀)နှစ် နှစ်ကြိမ်သက်တမ်းတိုးဖြင့် (စုစုပေါင်း နှစ်၇၀) ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

D/2016/Cabinet/6.,(9)

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့်(၁၁. ၂. ၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၇/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ်(၆၁)အရ Myanmar Agribusiness Public Corporation Limited (MAPCO)၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးလမ်းပန်းဆက်သွယ်ရေးဝန်ကြီး
ရန်ကုန်တောင်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
(သန်လျင်/ကျောက်တန်း)မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Myanmar Agribusiness Public Corporation Limited (MAPCO)
လက်ခံစာတွဲ
မျှောစာတွဲ

D/2016/Cabinet/6.,(10)

နောက်ဆက်တွဲ-ခ

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဝဝ၁/MIC(OSS)/ECD/ ဝ၁(၃၆၆/၁၆ )
ရက် စွဲ ၊၂၀၁၆ခုနှစ် ဖေဖော်ဝါရီလ ၈ ရက်

M3-263
8/2

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ Myanmar Agribusiness Public Corporation Limited(MAPCO) မှ ခေတ်မီအပြည့်ပြည့်ဆိုင်ရာဘက်စုံသုံး ဆိပ်ခံတံတားနှင့်စီးပွားရေး လုပ်ငန်းဆောင်တာများ၏ဆက်စပ်အဆောက်အဦများ အကောင်အထည် ဖော်တည်ဆောက်ခြင်းလုပ်ငန်းအား လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စ

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂-၁-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၄/မ-၁၅၂၁/၂၀၁၆(၁၀၆)

၁။ Myanmar Agribusiness Public Corporation Limited(MAPCO) မှ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ်(၂၈)၊ မြေဧရိယာ(၃၇.၀၆)ဧကတွင် B.O.T စနစ်ဖြင့် ဆန်နှင့်ကောက်ပဲသီးနှံတင်ချရန်ခေတ်မီအပြည့်ပြည့်ဆိုင်ရာ ဘက်စုံသုံး ဆိပ်ခံတံတားနှင့်စီးပွားရေးလုပ်ငန်းဆောင်တာများ၏ဆက်စပ်အဆောက်အဦများ အကောင်အထည်ဖော်တည်ဆောက်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ကိုင်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်ပတ်သက်၍ စိစစ်ပြီးသဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦး(၅၀)နှစ်နှင့်သက်တမ်းတိုး(၁၀)နှစ်(၂)ကြိမ်ဖြစ်ပါကြောင်း၊ တည်ဆောက်ရေးကာလမှာ(၃)နှစ်ဖြစ်ကြောင်း မြေဧရိယာ၃၇.၀၆ဧကအနက် မြေဧရိယာ၁၇.၀၀ဧကကို ဆိပ်ကမ်းလုပ်ငန်းဆောင်ရွက်မည်ဖြစ်ပြီး ကျန်မြေဧရိယာ ၂၀.၀၆ဧကကို စီးပွားရေးလုပ်ငန်းများနှင့် အထောက်အကူပြု အဆောက်အဦများ တည်ဆောက်သွားမည်ဖြစ်ကြောင်း မီးဘေးကြိုတင်ကာကွယ်တားဆီးရေးစီမံချက်၊ ဝန်ထမ်းများလုပ်ငန်းခွင်သာယာရေးနှင့်သက်သာချောင်ချိရေးစီမံချက်များကိုလည်း ထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာသော အသားတင်အမြတ်ငွေမှ(၂%)အား လူမှုရေး

ဆိုင်ရာတာဝန်ခံမှု( Corporate Social Responsibility-CSR )လုပ်ငန်းများတွင်အသုံးပြု သွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုဆန်းစစ်ခြင်း ( Environmental and Social Impact Assessment )ကို Myanmar Engineering Society (EMS) နှင့် ဆောင်ရွက်ထားပါ ကြောင်းဖော်ပြပါရှိပါသည်။

၃။ Myanmar Agribusiness Public Corporation Limited(MAPCO)မှ ဆောင်ရွက် မည့် လုပ်ငန်းများနှင့်ပတ်သက်၍ ဆိပ်ခံတံတားတည်ဆောက်ခြင်းနှင့်အဆောက်အဦများတည် ဆောက်ခြင်းလုပ်ငန်းများမှ ထွက်ရှိလာမည့်ဖုန်မှုန့်နှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းမှုဖြစ်ပေါ်လာနိုင်ခြင်း၊ တည်ဆောက်ရေးစက်ယန္တရား၊ ယာဉ်များမှအသံဆူညံခြင်းနှင့် အခိုးအငွေ့များထုတ်လွှတ်ခြင်းတို့ကြောင့် လေထုညစ်ညမ်းခြင်း၊ ဆိုက်ကပ်လာမည့် သင်္ဘော များမှ ထွက်ရှိလာမည့် စွန့်ပစ်အမှိုက်များ၊ မိလ္လာအညစ်အကြေးများ၊ စွန့်ပစ်ဆီအင်ဂျင်ဝိုင်များ ကြောင့် ပတ်ဝန်းကျင်ရေထု၊ မြေထု၊ လေထုညစ်ညမ်းခြင်းစသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှု များဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Myanmar Agribusiness Public Corporation Limited(MAPCO)မှ ဆောင်ရွက်မည့် ခေတ်မီအပြည်ပြည်ဆိုင်ရာ ဘက်စုံသုံးဆိပ်ခံတံတားနှင့် စီးပွားရေးလုပ်ငန်း ဆောင်တာများ၏ ဆက်စပ်အဆောက်အဦများအကောင်အထည်ဖော် တည်ဆောက်ခြင်း လုပ် ငန်းများအား လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအ တိုင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်း ကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြု လွှာတွင်ဖော်ပြထားသည့် လူမှုရေးအကျိုးပြုလုပ်ငန်းများ( Corporate Social Responsibility-CSR )အတွက် အသားတင်အမြတ်ငွေ၏(၂%)အား အသုံးပြု ခြင်းတို့ အပါအဝင်ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော် ဆောင် ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် အဆိုပြုလွှာတွင် တင်ပြထားသည့် ဆောင်ရွက်ထားရှိပြီးဖြစ်သည့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုဆန်းစစ်ခြင်း( Environmental and Social Impact Assessment-ESIA ) အစီရင်ခံစာကို ဝန်ကြီးဌာနသို့အတည်ပြုချက်ရရှိအောင်ထိ ဆက်လက်တင်ပြသွားရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး(သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့်လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်နှင့်အစိုင်အခဲ စီမံခန့်ခွဲမှုအစီအစဉ် စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Manangement Plan-EMP ) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ ပို့ဆောင်ရေးဝန်ကြီးဌာန မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ ချမှတ်ထားသော ဥပဒေ၊ နည်းဥပဒေ၊ ညွှန်ကြားချက်များ၊ စည်းကမ်းချက်များနှင့်အညီ လိုက်နာကျင့်သုံးအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့်ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

နောက်ဆက်တွဲ-ဂ


မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း
MYANMAR ENGINEERING SOCIETY
Hlaing Universities' Campus, Hlaing Township, Yangon, Myanmar
Tel : 95-1-519673 ~ 76, Fax : 95-1-519681
E-mail:mes@mptmail.net.mm, Website: www.mes.org.mm


သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

Mg-424
26/2

စာအမှတ် ၊ မအသ / MIC/ ၀၁၇၆ / ၂၀၁၆။

ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ၊ ဖေဖော်ဝါရီလ၊ (၂၅)ရက်။

P.267
26.2.16

အကြောင်းအရာ ။ ။ **Myanmar Agribusiness Public Corporation Limited (MAPCO) ၏ BOT စနစ်ဖြင့် ဆန်နှင့် ကောက်ပဲသီးနှံ တင်ချရန် ခေတ်မီ အပြည်ပြည်ဆိုင်ရာ ဘက်စုံသုံး ဆိပ်ခံတံတားနှင့် စီးပွားရေး လုပ်ငန်းဆောင်တာများ၏ ဆက်စပ် အဆောက်အဦများ တည်ဆောက်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် ကိစ္စ။**

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆.၁.၂၀၁၆ ရက်စွဲပါ စာအမှတ် ၊ရက–၄/မ–၁၅၂၁/ ၂၀၁၆(၁၁၁)။

၁။ အထက်ပါအကြောင်းအရာနှင့် ပတ်သတ်၍ရည်ညွှန်းချက်ပါစာအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့ ဆက်သွယ်ရာMyanmar Agribusiness Public Corporation Limited (MAPCO) မှ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်ကျောက်တန်းနယ်မြေသီလဝါဆိပ်ကမ်းဒေသ၊မြေကွက်အမှတ်(၂၈)၊မြေဧရိယာ (၃၇.၀၆)ဧကတွင် BOT စနစ်ဖြင့် ဆန်နှင့် ကောက်ပဲသီးနှံ တင်ချရန် ခေတ်မီ အပြည်ပြည်ဆိုင်ရာ ဘက်စုံသုံး ဆိပ်ခံတံတားနှင့် စီးပွားရေး လုပ်ငန်းဆောင်တာများ၏ ဆက်စပ် အဆောက်အဦများ တည်ဆောက်ခြင်းလုပ်ငန်း နှင့်ပတ်သတ်၍ လိုအပ်သော သဘောထား မှတ်ချက် ပေးရန် အကြောင်းကြားခဲ့ပါသည်။

၂။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းတွင် ဖွဲ့စည်းထားသော MIC Projects Assessment Committee မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ သဘောထားမှတ်ချက်ပေးနိုင်ရေး အတွက် အပြည်ပြည်ဆိုင်ရာဆိပ်ခံတံတားနှင့် အထောက်အကူပြု အဆောက်အအုံများ တည်ဆောက်ခြင်းလုပ်ငန်း နှင့် ပတ်သတ်၍ Presentation ပြုလုပ်ရန်ဖိတ်ကြားချက်အရ Myanmar Agribusiness Public Corporation Limited (MAPCO) မှ တာဝန် ရှိသူများမှ (၃–၂–၂၀၁၆) ရက်နေ့တွင် မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း သို့ လာရောက်၍ စီမံကိန်း နှင့် ပတ်သတ်သော အချက်အလက်များကို ရှင်းလင်းတင်ပြခဲ့သည်။

၃။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း မှ MIC Projects Assessment Presentation Committee အဖွဲ့ဝင် များဖြစ်ကြသော ဥက္ကဋ္ဌ ဦးဝင်းခိုင်၊ အတွင်းရေးမှူး ဦးကြည်လွင်၊အဖွဲ့ဝင် များဖြစ်ကြသော ဦးကျော်စန်ဝင်း၊ ဦးကိုကိုကြီး၊ ဦးခင်မောင်ဝင်း၊ ဦးခင်မောင်မောင်၊ ဦးခင်မောင်ဌေး တို့တက်ရောက်ခဲ့ကြပါသည်။

၄။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းတွင် ဖွဲ့စည်းထားသောMIC Projects Assessment Presentation Committee မှ ယင်းကိစ္စနှင့် ပတ်သက်၍ (၂.၂.၂၀၁၆)ရက်နေ့မှ (၁၇.၂.၂၀၁၆) ရက်နေ့အထိ လိုအပ်သော ပုံစံနှင့် BQ များတောင်းခဲ့ပြီး (၁၉.၂.၂၀၁၆) ရက်နေ့အထိ အဆောက်အဦအတွက်အသုံးပြုမည့် ဆောက်လုပ်ရေးပစ္စည်းများကို စိစစ် သုံးသပ်ခဲ့ပါသည်။ (၁၉.၂.၂၀၁၆) တွင် ထောက်ခံတင်ပြသော အရေအတွက် အပေါ် ကုမ္ပဏီ ဘက် သို့ သဘောတူကြောင်း စာတောင်း ခံခဲ့ရာ ၊ (၂၂.၂.၂၀၁၆) နေ့တွင် ရရှိခဲ့ ပါသည်။

၅။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၊ MIC Projects Assessment Committee အနေဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်ကျောက်တန်း နယ်မြေသီလဝါဆိပ်ကမ်းဒေသ တွင် BOT စနစ်ဖြင့် ဆန်နှင့် ကောက်ပဲသီးနှံ တင်ချရန် ခေတ်မီ အပြည်ပြည်ဆိုင်ရာ ဘက်စုံသုံး ဆိပ်ခံတံတားနှင့် စီးပွားရေး လုပ်ငန်းဆောင်တာများ၏ ဆက်စပ် အဆောက်အဦများ တည်ဆောက်ခြင်း ဆောင်ရွက်ရာတွင် သတ်မှတ်ထားသော စံချိန်စံညွှန်းများ နှင့် အညီ တည်ဆောက်ရန် နှင့် စံချိန်စံညွှန်းမှီ တည်ဆောက်ရေး ပစ္စည်း များ အသုံးပြု တည်ဆောက်ပါက ကန့်ကွက်ရန် မရှိပါကြောင်း တင်ပြအပ်ပါသည်။

၆။ Myanmar Agribusiness Public Corporation Limited (MAPCO) မှ (၄.၂.၂၀၁၆) ရက်စွဲပါစာအရ ပထမဦးစွာ Port Operation Area (Phase 1) ၁၇ ဧက တွင် ဆိပ်ခံတံတားနှင့် အဆောက်အဦး၊ကုန်ပစ္စည်းများ စုပုံရာနေရာ (Container Yard) များသာ ဆောင်ရွက်ရန် တင်ပြလာကြောင်းကို ပူးတွဲ (၁) ပါစာ ဖြင့် တင်ပြအပ်ပါသည်။

၇။ အဆောက်အဦပိုင်းတွင် ပြည်ပမှတင်သွင်းမည့် အောက်ဖော်ပြပါ ဆောက်လုပ်ရေးပစ္စည်းများနှင့် အရေအတွက် မှာ Phase 1 တွင် တည်ဆောက်မည့် Port Operation Area **(၁၇ ဧက)** အတွက်သာ စိစစ်၍ ထောက်ခံတင်ပြအပ်ပါသည်။

| စဉ် | ပစ္စည်းအမျိုးအမည် | MIC စာအုပ်ပါ အရေအတွက် | BQ တွင်ပါဝင်သော အရေအတွက် | ထောက်ခံတင်ပြသော အရေအတွက် |
|---|---|---|---|---|
| ၁။ | Cement | ၆၃၂၈၇ MT | ၆၃၂၈၇ MT | ၁၈၃၀၉ MT |
| ၂။ | Rebar | ၁၁၈၉၇ MT | ၁၁၈၉၇ MT | ၂၉၇၁ MT |
| ၃။ | 1000 mm PSC Pile | ၄၇၂၀ m | ၄၇၂၀ m | ၄၆၄၈ m |
| ၄။ | 900 mm PSC Pile | ၃၃၆၈ m | ၃၃၆၈ m | ၃၂၄၈ m |
| ၅။ | 700 mm PSC Pile | ၃၂၅၀ m | ၃၂၅၀ m | ၃၀၂၄ m |
| ၆။ | 600 mm PSC Pile | ၆၃၅၈ m | ၆၃၅၈ m | ၅၇၁၂ m |

MT = မက်ထရစ်တန် ,   m =မီတာ

မှတ်ချက်။ ။(၁) ယခု စီမံကိန်းကို စိစစ်ရာတွင် တင်ပြသောပုံစံဒီဇိုင်းများသည် အမှန်တကယ်အသေးစိတ် တည်ဆောက်မည့် ပုံစံဒီဇိုင်းများနှင့် ကွဲလွဲမှုရှိမည်ဆိုပါက ယခုတွက်ချက်ထားသောပစ္စည်းအရေအတွက်များမှာ အမှန်တကယ်သုံးစွဲမည့်အရေအတွက်နှင့် ကွာခြားနိုင်ပါသည်။ သို့အတွက် လိုအပ်ပါက Detail Drawings မှ တွက်ချက်ထားသော Detail Estimate ရရှိပြီးသည့်အခါတွင် ပြန်လည်စိစစ်မှုများဆောင်ရွက်ရန် လိုအပ်ပါသည်။ (Subject to Check)

(၂) သက်ဆိုင်ရာမီးသတ်ဦးစီးဌာနမှချမှတ်ထားသော လမ်းညွှန်ချက်များအတိုင်းလိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(ဝင်းခိုင်)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

မိတ္တူကို – Managing Director, Myanmar Agribusiness Public Corporation Limited (MAPCO)

– ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

– အတွင်းရေးမှူး၊ MIC Projects Assessment Committee

– ရုံးလက်ခံ / မျှောစာတွဲ

MIC Projects Assessment Committee
Myanmar Engineering Society

ပူးတွဲ (၁)

MAPCO

www.mapco.com.mm

စာအမှတ်၊ MAPCO / MDO / ၂၀၁၆ ( ၀၆၉ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၄ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံအင်ဂျင်နီယာများအသင်း

အကြောင်းအရာ။ သီလဝါဆိပ်ကမ်းမြေကွက်အမှတ်(၂၈)တွင် ဆန်နှင့်ကောက်ပဲသီးနှံတင်ချရန် ခေတ်မီအပြည့်ပြည့်ဆိုင်ရာ ဆိပ်ခံတံတားနှင့် စီးပွားရေးလုပ်ငန်းဆောင်တာများ၏ ဆက်စပ်အဆောက်အအုံများ အကောင်အထည်ဖော်တည်ဆောက်ခြင်း လုပ်ငန်း လျှောက်ထားချက်ကိစ္စ

၁။ အထက်အကြောင်းအရာပါနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများဖြင့်သာ ဖွဲ့စည်းထားသော Myanmar Agribusiness Public Corporation Limited (MAPCO)၏ မြေကွက် အမှတ် (၂၈) သီလဝါဆိပ်ကမ်းရှိ ၃၇.၀၆ ဧက အကျယ်အဝန်းရှိ မြေနေရာအား BOT စနစ်ဖြင့် ငှားရမ်း၍ ဆန်နှင့် ကောက်ပဲသီးနှံတင်ချရန် ခေတ်မီအပြည့်ပြည့်ဆိုင်ရာ ဆိပ်ခံတံတားနှင့် စီးပွားရေး လုပ်ငန်း ဆောင်တာများ၏ ဆက်စပ်အဆောက်အအုံများ အကောင်အထည်ဖော်တည်ဆောက်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာ တင်သွင်းခဲ့ပါသည်။

၂။ ထိုသို့တင်သွင်းရာတွင် Port Operation Area (Phase 1) ၁၇ဧက တွင် ဆိပ်ခံတံတားနှင့် ဆက်စပ်အဆောက်အဦး၊ ကုန်ပစ္စည်းများစုပုံရာနေရာ (Container Yard)များ ဆောင်ရွက်ရန် နှင့် (Phase 2)အဖြစ် ကျန်မြေဧရိယာ ၂၀.၀၆ ဧကပေါ်တွင် Commercial Activities Area အဖြစ် သတ်မှတ်ကာ ကောက်ပဲသီးနှံနှင့်ဆန်စပါးအထောက်အကူ အဆောက်အအုံများ တည်ဆောက်ရန် လျာထားခဲ့ပါသည်။

၃။ ယခုအခါတွင် MIC ခွင့်ပြုမိန့်ရရှိပြီးပါက Phase 1 အား ကနဦးအနေဖြင့် စတင်ဆောင်ရွက်ရန် ရှိပြီး (Phase 1) ပြီးဆုံးကာလတွင် Phase 2 အား ဆက်လက်ဆောင်ရွက်ရန် ရှိပါသည်။သို့ဖြစ်ပါ၍ Port Operation Area (Phase 1) အား လိုအပ်သော တည်ဆောက်မှုနှင့် ပတ်သက်၍ ခွင့်ပြုပေးနိုင်ပါရန် အဆိုပြုလျှောက်ထားအပ်ပါသည်။ ကျန်လပ်သော Phase 2 အား ဆက်လက်ဆောင်ရွက်မည်ဆိုပါက MIC သို့ ထပ်မံ၍ အဆိုပြုလျှောက်ထားခြင်းကို ဆောင်ရွက်မည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

Ye Min Aung
Managing Director
Myanmar Agribusiness Public Corporation Limited

မိတ္တူကို
- ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။
- ရုံးလက်ခံ။

004483

Myanmar Agribusiness Public Corporation Limited (MAPCO)
MAPCO Building, No.100, Wardan Street and Kan Nar Street, Beside the Concrete Express Way, Wardan Port Area,Seik Kan (Port) Township,Yangon.
Tel: (95-1) 230 1652~53, (95-9) 4211 350 22, 4211 350 33, 4211 350 44 Fax: (95-1) 230 1653 E-mail: admin@mapco-ygn.com

MAPCO

www.mapco.com.mm

စာအမှတ်၊MAPCO/PPM(သီလဝါ)/၂၀၁၆( ၁၃၆)
ရက်စွဲ ၊၂၀၁၆ခုနှစ် ၊မတ် လ ၁ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

M3-451
1/3

အကြောင်းအရာ။ **ရန်ကုန်တိုင်းဒေသကြီး၊ သီလဝါဆိပ်ကမ်းနယ်မြေ၊ မြေကွက်အမှတ်(၂၈)တွင် လုပ်ကိုင် ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းဆောင်တာများအား တင်ပြခြင်း**

Myanmar Agribusiness Public Corporation Limited(MAPCO)မှ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ ၊သီလဝါဆိပ်ကမ်းဒေသ ၊မြေကွက်အမှတ်(၂၈)၊မြေဧရိယာ(၃၇.၀၆) ဧက တွင် BOT စနစ်ဖြင့် ဆန်နှင့်ကောက်ပဲသီးနှံတင်ချရန် ခေတ်မီအပြည့်ပြည့်ဆိုင်ရာ ဆိပ်ခံတံတားနှင့် စီးပွားရေးလုပ်ငန်း၌ စီးပွားရေးလုပ်ငန်းဆောင်တာများအဖြစ် အောက်ပါတို့အား လျာထားပါသည်။

(၁) ဆိပ်ကမ်းနယ်မြေတွင် ဆိပ်ခံတံတားတည်ဆောက်ခြင်း လုပ်ငန်းနှင့် ဆက်စပ် ကုန်တင်/ကုန်ချ လုပ်ငန်းရပ်

(၂) ဆန်နှင့်ကောက်ပဲသီးနှံသိုလှောင်ခြင်း(Warehouse and silos)

(၃) ထုပ်ပိုးခြင်းနှင့် သင်္ဘောတင် သယ်ယူနိုင်ရေး ပြင်ဆင်ခြင်းလုပ်ငန်း

(၄) သင်္ဘော shipment စောင့်ဆိုင်းစဉ်ကာလ Warehouse များတွင် သိုလှောင်ခြင်း ၊ငှားရမ်းခြင်း

(၅) လိုအပ်ပါက Export Quality ဆန်များကို fumigation ပြုလုပ်ခြင်းလုပ်ငန်း

(၆) Warehouse မှ export ဆန်နှင့် ကောက်ပဲသီးနှံများကို သင်္ဘောပေါ်အရောက် တင်ပို့ခြင်းလုပ်ငန်း

လေးစားစွာဖြင့်

Ye Min Aung
Managing Director
Myanmar Agribusiness Public Corporation Ltd.


Myanmar Agribusiness Public Corporation Limited (MAPCO)
MAPCO Building, No.100, Wardan Street and Kan Nar Street, Beside the Concrete Express Way, Wardan Port Area,Seik Kan (Port) Township,Yangon.
**Tel:** (95-1) 230 1652~53, (95-9) 4211 350 22, 4211 350 33, 4211 350 44 **Fax:** (95-1) 230 1653 **E-mail:** admin@mapco-ygn.com

